# ကထိန်အနုမောဒနာ ဒေသနာ

**စေတနာသုံးပါး**

ဘုန်းကြီးတို့ ဒါယကာ ဒါယိကာမအပေါင်း သူတော်ကောင်းတွေ ယနေ့မှာ ကထိနစီဝရဒါနတည်းဟူသော ကောင်းမှုတွေကို ပြုလုပ်ကြတယ်၊ ဒီ ဒါနကို ပြုလုပ်လှူဒါန်းဖို့ရန် ဘုန်းကြီးတို့ ဒါယကာဒါယိကာမတွေ ဘယ်အချိန်က စပြီးတော့ အားထုတ်နေကြသလဲဆိုတော့ သီတင်းဝါလ မကျွတ်ခင်ထဲကဖြစ်ပါတယ်။

ပန်းငွေရုံတောရစာသင်တိုက်အတွင်းမှာ ဒီနှစ် သီတင်းသုံး ဝါကပ် တော်မူကြတဲ့ သံဃာတော်အရှင်မြတ်တွေ ဝါကျွတ်ရင်ဖြင့် တို့တတွေတော့ ကထိနစီဝရဒါနကြီးကို ပြုရအုံးမယ်–လို့ ဝါမကျွတ်ခင်ကပင် ကြိုတင်ပြီး တော့ ပုဗ္ဗစေတနာလေးတွေ ဖြစ်နေကြပါတယ်။

အဲဒီ စေတနာလေးဟာ သံဃိကဒါနစေတနာပဲ၊ အလွန်မှ မွန် မြတ်တဲ့စေတနာ၊ အင်မတန်မှ တန်ဖိုးရှိတဲ့စေတနာ။ သံဃာတော်အရှင် မြတ်တွေအပေါ်မှာ အာရုံကျရောက်ပြီးတော့ ဖြစ်ပေါ်နေတဲ့စေတနာဖြစ်လို့ သံဃိကဒါနစေတနာလို့ ခေါ်ရပါတယ်။ ရှေ့မဆွကပင် ဒီ စေတနာလေး တွေ တဖွားဖွားဖြစ်ပေါ်နေခဲ့ကြပါတယ်။ ဒါကို ပုဗ္ဗစေတနာလို့ခေါ်တယ်။

ယခုလို လှူဒါန်းဆက်ကပ်နေဆဲ အချိန်လေးမှာလဲပဲ လှူဖွယ် ဝတ္ထုတွေကို ကြည့်ပြီးတော့ ကျေနပ်နေကြတယ်၊ ဝမ်းသာနေကြတယ်၊

ကြည်နူးမှုတွေ ဖြစ်ပေါ်နေကြတယ်၊ ဒါက မုဥ္စစေတနာ။

တန်ဖိုးရှိတဲ့စေတနာတွေ နော်၊ နှလုံးသားထဲမှာ လောဘ, ဒေါသ, မောဟ စတဲ့ အကုသိုလ်အညစ်အကြေးတွေ ကင်းစင်နေတယ်၊ သံဃိကဒါန ကုသိုလ်စေတနာတွေသာ ဖြစ်နေကြတယ်။ အဖိုးတန်တဲ့စေတနာတွေပါပဲ။

လှူဒါန်းလို့ ပြီးမြောက်သွားတဲ့အခါကျတော့ကော၊ တို့အတွက် တစ်နှစ်တာတော့ ကထိနစီဝရဒါနကောင်းမှုကြီးကို ပြုလုပ်လိုက်ရပြီ–လို့ မိမိတို့ ပြုပြီးတဲ့ ကုသိုလ်တွေကို ပြန်ပြီးတော့ ဆင်ခြင်တယ်။ ဆင်ခြင်မိတိုင်း ဝမ်းမြောက်ဝမ်းသာဖြစ်နေကြမယ်၊ ဒါကိုတော့ အပရစေတနာလို့ ခေါ်ပါတယ်။

**အဖိုးတန်ဆုံးစေတနာ**

ယခုလို မလှူခင်မှာလည်းကောင်း၊ လှူဆဲခဏမှာလည်းကောင်း၊ လှူဒါန်းပြီးနောက်လည်းကောင်း၊ စေတနာတွေ ဖြစ်ပြီးတော့နေကြရတာ၊ အင်မတန်မှ တန်ဖိုးရှိတဲ့ စေတနာတွေပဲ–တဲ့။ သံဃိကဒါနစေတနာတွေလို့ ခေါ်ပါတယ်၊ အဲဒီလို ဖြစ်ပေါ်တဲ့ စေတနာဟာ ဘယ်လောက်အထိ အကျိုးကြီးသလဲဆိုတော့ –

**စတုန္နမ္ပိစ ဒီပါနံ ၊ ဣဿရံ ယောဓ ကာရယေ။**

**ဧကိဿာ ပူဇနာယေတံ ၊ ကလံ နာဂ္ဃတိ သောဠသိံ။**

ယော–အကြင်အမျိုးကောင်းသားအမျိုးကောင်းသမီးသည်၊ ဣဓ–ဤလောက၌၊ **စတုန္နမ္ပိစ ဒီပါနံ**–ကျွန်းကြီး လေးကျွန်းလုံးကိုလည်း၊ **ဣဿရံ**–အစိုးရခြင်းကို၊ **ကာရယေ**–ပြုနိုင်ရာ၏။ **ဧတံ**–ထို စကြာမင်းကြီး၏ စည်းစိမ်ရတနာ၏ အဖိုးတန်ခြင်းသည်၊ **ဧကိဿာ**–တစ်ခုသော၊ **ပူဇနာယ**–ပူဇော်ခြင်း၏၊ ဝါ–ပူဇော်ခြင်း ကုသိုလ်စေတနာ၏၊ **သောဠသိံ ကလံ**–တစ်ဆယ့်ခြောက်စိတ်ကို၊ ဝါ–နှစ်ရာငါးဆယ်ခြောက်စိတ် တစ်စိတ်ဖိုးကို၊ **နာဂ္ဃတိ**, န အဂ္ဃတိ–အဖိုး မထိုက်ပါပေ။

ဒါယကာ ဒါယိကာမအပေါင်းသူတော်ကောင်းတို့မှာ ကထိနဒါန ကောင်းမှုနဲ့ ပတ်သက်ပြီးတော့ ဖြစ်ပေါ်နေတဲ့ သံဃိကစေတနာတွေသည် လေးကျွန်းလုံးကို အစိုးရတဲ့ စကြဝတေးမင်းကြီး၊ စကြာရတနာကို –

ပိုင်ဆိုင်တဲ့ မင်းကြီး၊ စီးပွားချမ်းသာ ရတနာရွှေငွေ အထွေထွေနဲ့ ပြည့်စုံနေတဲ့ မင်းကြီး။ အဲဒီ စကြာမင်းကြီးရဲ့ စည်းစိမ်ချမ်းသာ ရတနာတွေဟာ ဘုန်းကြီးတို့ ဒါယကာ ဒါယိကာမအပေါင်း သူတော်ကောင်းတို့ရဲ့ နှလုံးသားထဲမှာ တည်ရှိနေတဲ့ ကထိနစီဝရဒါန သံဃိကစေတနာလေးရဲ့ ဆယ့်ခြောက်စိတ်စိတ်လို့ တစ်စိတ်ကိုတောင်မမီဘူး–တဲ့။ စကြာမင်းကြီးရဲ့ စည်းစိမ်ရတနာတွေထက် ကထိနစီဝရဒါန ကောင်းမှုစေတနာက သာလွန်နေတယ်။ ဘယ်လောက်တန်ဖိုးကြီးသလဲ၊ သိပ်ပြီးတော့ ဝမ်းမြောက်ဖို့ကောင်းလှတယ်။ ဒါ သံဃိကဒါနစေတနာရဲ့ ထူးမြတ်လွန်ကဲပုံပါပဲ။

အဲဒီလောက် တန်ဖိုးကြီးတဲ့စေတနာတွေ တို့ဒါယကာ ဒါယိကာမအပေါင်း သူတော်ကောင်းတွေမှာ ဖြစ်ပေါ်နေကြရပြီ၊ မလှူခင်ထဲက ဖြစ်ပေါ်နေခဲ့ကြတာ၊ ယခုလို လှူဆဲခဏမှာလဲ ဖြစ်နေကြတယ်၊ လှူဒါန်းပြီးနောက်လဲ ဖြစ်ပေါ်နေကြအုံးမှာပဲ။အချိန်ကြာမြင့်စွာ ဖြစ်ပေါ်နေလေကောင်းလေပဲ။

ဒီလို သံဃိကဒါနစေတနာတွေ ဖြစ်ပေါ်နေတိုင်းမှာ လောဘ, ဒေါသ,မောဟ စတဲ့ ကိလေသာအညစ်အကြေးတွေ ကင်းစင်ပြီးတော့နေမယ်၊ စိတ်တွေ ဖြူစင်ပြီးတော့ နေမယ်။ ဖြူစင်နေသမျှကာလပတ်လုံး ကုသိုလ်တွေဖြစ်နေကြမယ်ပေါ့။ အဲဒီ ကုသိုလ်စေတနာဟာ စကြာမင်းကြီးရဲ့ စည်းစိမ်ထက် မြတ်တယ်–တဲ့။

ကဲ–ကထိနစီဝရဒါနစေတနာရဲ့ အဖိုးတန်ပုံ, တန်ဖိုးကြီးမားပုံတွေကို သိရပါပြီ။

**ကထိန်ဆိုတာ**

ဒီနေ့ ဘာကိစ္စကို ဆောင်ရွက်နေကြတာလဲဆိုတော့၊ ကထိန်ကိစ္စကို ဆောင်ရွက်နေကြတာဖြစ်တယ်။ "ကထိန်"တဲ့၊ ဘာဖြစ်လို့ ကထိန်လို့ခေါ်သလဲဆိုတော့

**ဗုဒ္ဓါဒီဟိ ကထိယတေ သိလာဃတေ ပသံသီယတေတိ ကထိနံ။**

ဗုဒ္ဓါဒီဟိ–ဘုရားအစရှိသော သူတော်ကောင်းတို့သည်၊ ကထိယတေ သိလာဃတေ ပသံသီယတေ–ကောင်းပေစွ ကောင်းပေစွ, မြတ်ပေစွမြတ်ပေစွ–ဟု ချီးမွမ်းအပ်၏၊ ဣတိ–ထို့ကြောင့်၊ကထိနံ–ကထိန်မည်၏။

ဘုရားအစရှိသော သူတော်ကောင်းတွေက တို့ပရိသတ်ကြီး ယနေ့ ပြုလုပ်တဲ့ ကထိနစီဝရဒါနကောင်းမှုကို ကောင်းပေစွ ကောင်းပေစွ မြတ်ပေစွ မြတ်ပေစွလို့ ချီးမွမ်းအပ်တဲ့ အတွက်ကြောင့် ကထိန်လို့ခေါ်တယ်။

**ချီးမွမ်းခြင်းအကြောင်းသုံးချက်**

ဒီတော့ ဘာဖြစ်လို့ ဒီ ကထိနစီဝရဒါနကို အထူးဝိသေသပြုပြီးတော့ ချီးမွမ်းတော်မူရသလဲဆိုတော့၊ ချီးမွမ်းခြင်း၏ အကြောင်းအချက်သုံးချက်ရှိနေလို့ပဲ။ ယနေ့ လှူဒါန်းတဲ့ ကထိနစီဝရဒါနမျိုးသည် –

၁။ သံဃိကဒါန ဖြစ်သောကြောင့်လည်းကောင်း။

၂။ အထူး သံဃိကဒါန ဖြစ်သောကြောင့်လည်းကောင်း။

၃။ သံဃာတော်အရှင်မြတ်တို့၏ အာပတ်ကို သုတ်သင်နိုင်သော ဒါနဖြစ်သောကြောင့်လည်းကောင်း။

ဘုရားအစရှိသော သူတော်ကောင်းတွေ အထူးဝိသေသပြု ချီးမွမ်းတော်မူခြင်းဖြစ်တယ်–တဲ့။ ဒီပြင် ဒါနမျိုးတွေနဲ့ မတူဘူးပေါ့ နော်။

**၁။ သံဃိကဒါန ဖြစ်သောကြောင့်**

ပထမအချက်က သံဃိကဒါနဖြစ်လို့ ချီးမွမ်းတော်မူတာ ဖြစ်တယ်–တဲ့။

ကထိန်ကမ္ဗဝါဖတ်ကြတဲ့အခါ (ဣဒံ သံဃဿ ကထိနစီဝရံ ဥပ္ပန္နံ)လို့ ကမ္ဗဝါစာပါဠိထဲမှာ ပါပါတယ်၊ အဲဒီ အထဲမှာ "သံဃဿ ဥပ္ပန္နံ"တဲ့၊ သံဃာတော်အရှင်မြတ်များရဲ့ အထံမှာ ဖြစ်ပေါ်သွားတယ်–လို့ ဆိုပါတယ်၊ ဒီစကားလေးကို ထောက်သောအားဖြင့် ကထိနဒါနကို သံဃိကဒါနလို့ ဆိုနိုင်တာဖြစ်တယ်၊ သံဃိကသက်နှံ့နဲ့သာ ကထိန်ခင်းလို့ရတယ်ဆိုတဲ့ အဓိပ္ပာယ်ကိုလဲ ပြပါတယ်။

ဒီလို သံဃိကဒါနဖြစ်တာကြောင့် ကထိနစီဝရဒါနကို ဘုရားအစရှိတဲ့ သူတော်ကောင်းတွေ ချီးမွမ်းခြင်းဖြစ်တယ်။

ပုဂ္ဂလိကဒါနထက် မြတ်နေလို့ ဒီ ကထိနစီဝရသံဃိကဒါနကို အထူးဝိသေသပြု ချီးမွမ်းခြင်းဖြစ်ပါတယ်။

နောက်တစ်နည်းပြောရမယ်ဆိုရင်၊ စတုဒိသာသံဃိကသင်္ကန်းကို ဝေဖန်သလို သံဃာတော်အရှင်မြတ်တွေကိုလဲပဲ အဲဒီ စတုဒိသာသံဃိက ဝေဖန်နည်းအတိုင်း ဝေဖန်ရသောကြောင့် ဒီ ကထိန်သင်္ကန်း ကထိနဒါနကို ဗုဒ္ဓရှင်တော်ဘုရားစတဲ့ သူတော်ကောင်းတွေ ချီးမွမ်းခြင်းဖြစ်တယ်။

ဗုဒ္ဓမြတ်စွာဘုရားက အရှင်အာနန္ဒာကို မိန့်ကြားခဲ့ဖူးတာတစ်ခု ရှိတယ်_

"ချစ်သားအာနန္ဒာ၊ ငါဘုရားသည် တစ်စုံတစ်ခုသော အကြောင်းပရိယာယ်ဖြင့် အသီးအခြား ပုဂ္ဂလိကဒါနထက် သံဃိကဒါနကို မြင့်မြတ်တယ်လို့ ငါဘုရား ဟောကြားတော်မူတယ်။ ပုဂ္ဂလိကဒါနကို အကျိုးကြီးတယ်လို့ ငါဘုရား မဟောဘူး"တဲ့။

ဒက္ခိဏာဝိဘင်္ဂသုတ်တော်မှာ မြတ်ဗုဒ္ဓမိန့်ကြားတော်မူထားတာ ဖြစ်ပါတယ်။ အကျိုးကြီးတဲ့ ဒါနဖြစ်သောကြောင့် အကျိုးကြီးအောင်ဘုန်းကြီးတို့ ဒါယကာ ဒါယိကာမအပေါင်းသူတော်ကောင်းတွေ စောစောက (မယံ ဘန္တေ သံသာရဝဋ္ဋဒုက္ခတော မောစနတ္ထာယ ဣမံ ကထိနစီဝရံ သံဃဿ ဒေမ)လို့ ရွတ်ဆိုပြီးတော့ သံဃိကအဖြစ်ဖြင့် လှူဒါန်းလိုက်ကြတယ်။ ဒီလို သံဃိကဒါနအဖြစ်ဖြင့် လှူဒါန်းတဲ့ သင်္ကန်းမျိုးနဲ့သာ ကထိန်ခင်းလို့ရပါတယ်၊ ပုဂ္ဂိုလ်ကို လှူဒါန်းတဲ့ သင်္ကန်းဖြင့် ကထိန်ခင်းလို့ မရဘူး။

ဒီလို သံဃိကဒါနဖြစ်လို့ မြတ်ဗုဒ္ဓက အကျိုးကြီးတယ်လို့ ချီးမွမ်းတော်မူခြင်းဖြစ်တယ်။ ဒါကြောင့်_

**တေသံ သုဒိန္နံ သုဟုတံ သုယိဋ္ဌံ၊ ယေ သံဃမုဒ္ဒိဿ ဒဒန္တိ ဒါနံ။**

**သာ ဒက္ခိဏာ သံဃဂတာ ပတိဋ္ဌာ၊ မဟပ္ဖလာ လောကဝိဒူနဝဏ္ဏိတာ။**

ယေ–အကြင် အမျိုးကောင်းသား အမျိုးကောင်းသမီးတို့သည်၊ သံဃံ–အရိယာသံဃာတော်အပေါင်းကို၊ ဥဒ္ဒိဿ–ရည်၍၊ ဒါနံ–အလှူဒါနကို၊ ဒဒန္တိ–သမ္မုတိသံဃာ၌ ပေးလှူကြကုန်၏၊ တေသံ–ထို အမျိုးကောင်းသား အမျိုးကောင်းသမီးတို့သည်၊ သုဒိန္နံ–ကောင်းစွာ လှူဒါန်းအပ်သည်မည်ပါပေ၏၊ သုဟုတံ–ကောင်းစွာ ပူဇော်သည် မည်ပါပေ၏၊ သုယိဋ္ဌံ–ကောင်းစွာ လှူဒါန်းအပ်သောအလှူကြီး မည်ပါပေ၏၊

သံဃဂတာ–သံဃာ၌ရောက်လျှက်၊ ပတိဋ္ဌာ–တည်သော၊ သာ ဒက္ခိဏာ–ထိုအလှူဒါနကို၊ မဟပ္ဖလာ–အကျိုးကြီး၏ဟူ၍၊ လောကဝိဒူနံ–အဆူဆူသောဘုရားရှင်တို့သည်၊ ဝဏ္ဏိတာ–ချီးမွမ်းအပ်ပါပေကုန်သတည်း ။

သံဃာကို လှူဒါန်းတဲ့ ဒါနသည် အကောင်းဆုံးဒါနဖြစ်တယ်၊ အမှန်ကန်ဆုံး လှူဒါန်းပူဇော်ခြင်းမျိုးဖြစ်တယ်။ အကောင်းဆုံးသော အလှူကြီးလဲ ဖြစ်တယ်–တဲ့။ အဲဒီလို ဘုရားအဆူဆူက ချီးမွမ်းတော်မူကြတယ်။ ဒါကြောင့် ဒါယကာ ဒါယိကာမအပေါင်းတွေ ယနေ့ လှူဒါန်းတဲ့ အလှူသည် သံဃိကအလှူဖြစ်တယ်၊ သံဃိကအလှူဖြစ်ခြင်းကြောင့် အဆူဆူသောဘုရားရှင်တွေက အထူးဆုံး အမြတ်ဆုံးဒါနဖြစ်တယ်လို့ ချီးမွမ်းတော်မူခြင်းဖြစ်တယ်လို့ သဘောကျထားရမယ် နော်။

## ၂။ အထူးသံဃိကဒါန ဖြစ်ခြင်းကြောင့်

နောက်တစ်ခါ၊ အဆူဆူသော ဘုရားရှင်တွေ ချီးမွမ်းကြတာ အထူးသံဃိကဒါနဖြစ်လို့–တဲ့။ သံဃိကဒါနတောင်မှ ရိုးရိုးမဟုတ်ဘူး၊ "အထူး" သံဃိကဒါန–တဲ့။ အထူးသံဃိကဒါနဆိုတဲ့နေရာမှာလဲ "ထူး" ခြင်းအကြောင်းနှစ်ချက်ရှိပြန်တယ်။ ဘယ်လို "ထူး" နေပြန်သလဲ–

(က)အချိန်ကာလအားဖြင့် လှူဒါန်းရသော ဒါနဖြစ်သောကြောင့်လည်းကောင်း။

(ခ)ကထိန်ခံထိုက်သော သံဃာတော်တွေကို လှူဒါန်းရာ ဒါနဖြစ်သောကြောင့်လည်းကောင်း။

ဒီအကြောင်းနှစ်ချက်ကြောင့် ထူးခြားတဲ့သံဃိကဒါန၊ "ထူး" နေတဲ့ သံဃိကဒါနဖြစ်နေတယ်လို့ မှတ်ကြရမယ်။

### –(က)အကြောင်း

ယနေ့ ကထိနဒါနမျိုးကို နေ့စဉ်နေ့စဉ် ပြုလုပ်လို့ မရဘူး၊ ပြုချင်တဲ့အချိန် ကောက်ပြုလို့ မရပါဘူး။ မြတ်ဗုဒ္ဓက တစ်နှစ်မှ (သီတင်းကျွတ်လပြည့်ကျော်တစ်ရက်နေ့မှ တန်ဆောင်မုန်းလပြည့်နေ့အထိ)–တစ်လပဲ၊ ဒီတစ်လအတွင်းမှာပဲ လှူဒါန်းလို့ရတယ်၊ ဒါကြောင့် ကထိနဒါနမျိုးကို ကာလဒါနလို့လဲခေါ်ပါတယ်။

တစ်နှစ်မှ တစ်လ၊ တစ်လမှာလဲ တစ်ရက်၊ တစ်ရက်မှာလဲ တစ်ကျောင်းတည်း လှူလို့ရတယ်၊တစ်ကျောင်းမှာ တစ်ရက်ပဲလှူလို့ရတယ်။ တခြားဒါနတွေထက် မထူးခြားနေပေဘူးလား၊ ထူးခြားနေတယ် နော်။ ဒီလို အချိန်ကာလအားဖြင့် လှူဒါန်းရသောဒါနဖြစ်လို့ ထူးခြားတဲ့ ဒါန ဖြစ်နေတဲ့အတွက်ကြောင့် ဘုရားအစရှိတဲ့သူတော်ကောင်းတွေ ချီးမွမ်း ခြင်းဖြစ်ပါတယ်။

(ခ)အကြောင်း

ဒုတိယအနေနဲ့ အထူးသံဃိကဒါနဖြစ်နေပုံကို ကြည့်အုံး။ ဘယ်လို အထူးသံဃိကဖြစ်နေပြန်သလဲဆိုတော့-ဒီ ကထိနစီဝရဒါနကို ပထမဝါဆို လပြည့်ကျော်တစ်ရက်နေ့မှစ၍ သီတင်းကျွတ်လပြည့်ကျော်တစ်ရက် မဟာ ပဝါရဏာနေ့၌ ပုရိမဝါကျွတ်လို့ ဝါမကျိုးမပြတ်တဲ့ သံဃာတော်တွေသာ ဒီ ကထိန်သင်္ကန်းကို အလှူခံခွင့်ရှိတယ်။ ဝါကျိုး,ဝါပြတ်တဲ့သံဃာတွေ အလှူခံခွင့် မရှိပါဘူး။

**အနုဇာနာမိ ဘိက္ခဝေ ဝဿံဝုဋ္ဌာနံ ဘိက္ခူနံ ကထိနံ အတ္ထရိတုံ။**

**ဘိက္ခဝေ**-ချစ်သားရဟန်းတို့၊ **ဝဿံဝုဋ္ဌာနံ**-ဝါမှထကုန်သော၊ **ဘိက္ခူနံ**-ရဟန်းတို့အား၊ **ကထိနံ**-ကထိန်ကို၊ **အတ္ထရိတုံ**-ခင်းခြင်းငှာ၊ **အနုဇာနာမိ**-ငါဘုရားခွင့်ပြုတော်မူ၏-လို့ မိန့်ထားပါတယ်။(ကထိနက္ခန္ဓ)

ဝါဆိုသံဃာ၊ ဝါမကျိုးပြတ်တဲ့ သံဃာတွေကိုသာ ကထိန်ခင်းခွင့် ပြုထားတယ်၊ ကထိန်သင်္ကန်းလှူသူတွေကလဲ ဒီကထိန်ခင်းခွင့်ရှိတဲ့ ရဟန်း တော်တွေကိုသာ လှူဒါန်းလို့ရတယ်၊ မထူးခြားနေပေဘူးလား။ ဒါကြောင့် ဒီကထိနဒါနကို ထူးခြားတဲ့ဒါနလို့ ပြောတာ။ ဒီလို ထူးခြားတဲ့ သံဃိက ဒါနဖြစ်နေလို့ ဘုရားအစရှိတဲ့ သူတော်ကောင်းတွေ ကောင်းပေစွ မြတ်ပေစွ လို့ ချီးမွမ်းကြတာဖြစ်ပါတယ်။

ဒါက ရိုးရိုးသံဃိကဒါန မဟုတ်,ထူးခြားတဲ့ သံဃိကဒါနဖြစ်နေပုံ နှစ်မျိုးပါပဲ။

**၃။ အာပတ်ကို သုတ်သင်နိုင်သော ဒါနဖြစ်ခြင်းကြောင့်**

နောက်တစ်ခါ၊ သံဃာတော်အရှင်မြတ်တွေ့ သင့်ရောက်နိုင်တဲ့

အာပတ်ကို သုတ်သင်ပေးနိုင်ခြင်းကြောင့် ကထိနစီဝရဒါနကို ဘုရားစတဲ့ သူတော်ကောင်းတွေ အထူးဝိသေသပြုပြီးတော့ ချီးမွမ်းကြတယ်-တဲ့။

သံဃာတော်အရှင်မြတ်များ သင့်ရောက်တဲ့ အာပတ်ကို သုတ်သင်နိုင်တဲ့ ဒါန-တဲ့။

ရဟန်းတော်တွေမှာ မြတ်ဗုဒ္ဓပညတ်ထားတဲ့ သိက္ခာပုဒ် အကျဉ်းအားဖြင့် နှစ်ရာ့နှစ်ဆယ် ခုနစ်သွယ် ပေါ့၊ အကျယ်အားဖြင့်တော့ ကုဋေကိုးထောင်ကျော်ရှိနေပါတယ်။ အဲဒီ ပညတ်တော်တွေကို လွန်ကျူးရင် ရဟန်းတော်တွေ အာပတ်သင့်တယ်။ ပညတ်တော်မူထားတဲ့ အဲဒီ သိက္ခာပုဒ်တော်တွေထဲက သိက္ခာပုဒ် (၅)ခုမှ လွတ်ငြိမ်းခွင့် ရရှိနိုင်တယ်။

ဘုန်းကြီးတို့ ဒါယကာ ဒါယိကာမအပေါင်း သူတော်ကောင်းတွေ ယနေ့လှူဒါန်းလိုက်တဲ့ ကထိန်သင်္ကန်းကို အလှူခံကြတဲ့ သံဃာတော်တွေသည်၊ ဘုရားပညတ်ထားခဲ့တဲ့ သိက္ခာပုဒ်ငါးခုမှ လွတ်မြောက်ခွင့်ရှိသွားတယ့်-တဲ့၊ အကျိုးငါးပါး ရရှိနိုင်တယ် ပေါ့။ ဘယ်နေ့အထိ ရနိုင်သလဲ၊ တပေါင်းလပြည့်နေ့အထိ ငါးလတိုင်တိုင် လွတ်ငြိမ်းခွင့်ရနိုင်ပါတယ်။

ဗုဒ္ဓရှင်တော် ပညတ်တော်မူခဲ့တဲ့ သိက္ခာပုဒ်တော်တွေ၊ ပညတ်တော်တွေကို "အာဏာဒေသနာ"လို့ ခေါ်ပါတယ်။ ဒီ အာဏာဒေသနာတော်တွေကို လူမင်း၊နတ်မင်း၊ဗြဟ္မာမင်း စတဲ့ ဘယ်ပုဂ္ဂိုလ်တွေမှ ပယ်နုတ်ခွင့်မရှိဘူး၊ ပယ်နုတ်လို့လဲ မရဘူး။ ဘယ်ပုဂ္ဂိုလ်တွေ ပယ်နုတ်ခွင့် ရသလဲ ဆိုရင် ယနေ့ ကထိန်သင်္ကန်းလှူဒါန်းကြတဲ့ ကထိန်ဒါယကာ ဒါယိကာမတွေ ပယ်နုတ်ခွင့်ရတယ်။

"**ဣမံ ကထိနစီဝရံ သံဃဿ ဒေမ**"လို့ လှူဒါန်းလိုက်တာနဲ့ အလှူခံသံဃာတော်အရှင်မြတ်တွေမှာ အာနိသင်တရားငါးပါး၊ ဝါ-အပြစ်ငါးပါးမှ ကင်းလွတ်ခွင့် ရသွားကြတယ်။ ဒါ့ကြောင့် ဒီအလှူကို တစ်နည်းပြောမယ်ဆိုရင် ဓမ္မဒါန-လို့ ပြောနိုင်တယ်။ သိက္ခာပုဒ်ငါးခု၊ ပညတ်တော်ငါးခုကို လှူခွင့်ရတဲ့အတွက်ကြောင့် ဓမ္မဒါနလို့ ဆိုနိုင်ပါတယ်၊ တရားကို လှူဒါန်းသည်မည်ပါတယ်။

အလှူဒါနတွေထဲမှာ "သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ-အလုံးစုံသော အလှူဒါနတို့တွင် တရားဘည်းဟူသော အလှူဒါနသည် အမွန်မြတ်ဆုံး

ဖြစ်တယ်"လို့ ဟောကြားတော်မူထားပါတယ်။

ကထိန်သင်္ကန်းလှူဒါန်းခြင်းကြောင့် ဓမ္မဒါနပြုရာလဲရောက်သွားပါတယ်၊ ဒီလို သိရှိပြီး ဝမ်းမြောက်ကြရမယ် နော်။ ဒီလို အာပတ်တွေကို သုတ်သင်ပေးနိုင်သော ဒါနဖြစ်နေခြင်းကြောင့် ဘုရားအစရှိတဲ့ သူတော်ကောင်းတွေ အထူးဝိသေသပြု ချီးမွမ်းခြင်းဖြစ်ပါတယ်။

**အရတော်ပေစွ**

ဒါကြောင့် လှူဒါန်းတဲ့ ဒါယကာ ဒါယိကာမအပေါင်းသူတော်ကောင်းတွေအနေနဲ့ မိမိတို့သည် ဒီလို ဒါနမျိုးကို ပြုရတဲ့အတွက် သာသနာတော်ကြီး ထွန်းလင်းနေခိုက်မှာ လူ့ဘဝလူလာဖြစ်ရတာ_ အရတော်ပေစွ အရတော်ပေစွ_လို့ ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြရမယ်။

အဟော မေ လာဘာ ဝတ ဗုဒ္ဓသာသနံ နိဿာယ မဟန္တံ ပုညံ ပသုတံ။

မေ မယာ–ငါသည်၊ အဟော လာဘာ ဝတ–အရတော်ပေစွတကား၊ ဗုဒ္ဓသာသနံ–ဘုရားရှင်၏ သာသနာတော်မြတ်ကြီးကို၊ နိဿာယ–အမှီပြု၍၊ မဟန္တံ–ကြီးကျယ်မြင့်မြတ်သော၊ ပုညံ–ကောင်းမှုတွေကို၊ ပသုတံ ဝတ–ဆည်းပူးမွားများအပ်ပေစွတကား . . .။

မိမိတို့သည် ကထိနဒါနကို ပြုရခြင်းကြောင့် သံဃာတော်အရှင်မြတ်တွေ အကျိုးငါးပါးကို ရရှိတယ်၊ အာနိသင်ငါးပါး ရရှိတယ်၊ ပညတ်တော်ငါးပါးမှ လွတ်မြောက်သွားကြတယ်၊ ဓမ္မဒါနကို ပြုရာရောက်တယ်။

ဒါကြောင့် မိမိတို့သည် ဗုဒ္ဓသာသနာတော်မြတ်ကြီးကို အမှီပြုပြီးတော့ ယခုလို ထူးမြတ်တဲ့ ကောင်းမှုတွေကို ပြုခွင့်ရတာ သိပ်ပြီးတော့ အရတော်ပေတယ်၊ အရတော်ပေတယ်_လို့ ဝမ်းမြောက်ဝမ်းသာတွေ ဖြစ်ကြရမယ် နော်။

**အလှူခံများ အကျိုးငါးပါးရပုံ**

ရဟန်းတော်တွေ ရရှိသွားကြတဲ့ အကျိုးငါးပါး၊ လွတ်ငြိမ်းခွင့်ရသွားတဲ့ ပညတ်တော်ငါးပါးက ဘာတွေလဲဆိုတော့_

(၁) အပန်မကြား၊ လိုရာသွား၊ ပြစ်ကားမသင့်ပြီ။

မြို့တွင်းရွာတွင်းကို ဆွမ်းစားကြွတဲ့အခါ ဆွမ်းစားပင့်တဲ့အိမ်ကနေ အခြား တအိမ်အိမ်ကို သွားမယ်ဆိုရင် ပန်ကြားပြီးမှ သွားရပါတယ်၊ တစ်ပါးပါးကို ပန်ကြားပြီးတော့မှ သွားရပါတယ်၊ မပန်ကြားဘဲသွားရင် အာပတ်သင့်တယ်၊ အပြစ်ရောက်ပါတယ်။

ယနေ့ကထိန်သင်္ကန်းကို အလှူခံတဲ့နေ့ကစပြီးတော့ တပေါင်းလပြည့် နေ့အထိ ငါးလအတွင်းမှာတော့ မပန်ကြားဘဲ သွားခွင့်ရပါတယ်၊ ဘုရားရှင်ရဲ့ ပညတ်တော်မှ လွတ်ငြိမ်းခွင့်ရသွားတယ်၊ ဒါဟာ ကထိန်သင်္ကန်းကို ခံယူတဲ့ အတွက် ရဟန်းတော်တွေ ရရှိသွားတဲ့ အကျိုးတစ်ပါးပါပဲ။

**[၂] သုံးထည်ထဲမှာ၊ ထားလိုရာ၊ ထားခဲ့သွားနိုင်သည်။**

သင်္ကန်းသုံးထည်ကို "တိစီဝရိတ်" လို့ခေါ်ပါတယ်၊ အဲဒီ တိစီဝရိတ်ကို ဆောင်တဲ့ ဓုတင်ဆောင်ရဟန်းဟာ အဲဒီ တိစီဝရိတ်သင်္ကန်းနဲ့ ညဥ့်ကင်းပြီးတော့ နေလို့မရဘူး၊ ကင်းကွာပြီးတော့ ဟိုသွား ညအိပ်၊ ဒီသွား ညအိပ် လုပ်ခွင့်မရှိဘူး၊

ယနေ့ ကထိန်သင်္ကန်းကို အလှူခံလိုက်တဲ့အခါ ကထိန်အာနိသင်ရတဲ့ အတွက်ကြောင့် ငါးလအတွင်းမှာ ဒီသင်္ကန်းသုံးထည်ကို ထားလိုရာထားပြီး သွားနိုင်တယ်၊ ပေါ့ပေါ့ပါးပါး သွားနိုင်တယ်၊ ညဥ့်ကင်းပြီးနေခွင့်ရသွားတယ်၊ ဒါက ဒုတိယမြောက် ပညတ်တော်တစ်ခုက ကင်းလွတ်ခွင့်ရသွားတာပဲပေါ့၊ ဒါလဲ အကျိုးတစ်ပါးပါပဲ။ နောက်တခါ–

**[၃] သင်္ကန်းများစွာ၊ ငါးလမှာ၊ သိမ်းကာထားနိုင်သည်။**

သံဃာတော်အရှင်မြတ်များဟာ သင်္ကန်းသပိတ်စတဲ့ ပရိက္ခရာတွေကို ရခဲ့ရင် ဆယ်ရက်အတွင်းမှာ အဓိဋ္ဌာန်တင် ဝိကပ္ပနာပြုထားရပါတယ်၊ အသစ် ရလာတဲ့ ပရိက္ခရာတွေကို အဲဒီလို ဝိနည်းထုံးစံအတိုင်း မထားလို့ရှိရင် အာပတ် သင့်ပါတယ်။

ကထိန်သင်္ကန်းကို ခံယူပြီးတဲ့နေ့ကစပြီး ငါးလအတွင်း အဓိဋ္ဌာန် ဝိကပ္ပနာ မပြုဘဲ လွတ်လွတ်လပ်လပ် ထားခွင့်ရှိသွားတယ်။ ဒီပညတ်တော် တစ်ခုကလည်း ကင်းလွတ်ခွင့်အကျိုးကို ရရှိသွားပါတယ်။ ဒါက တတိယ မြောက် အကျိုးပဲ။ နောက်တစ်မျိုးက–

**[၄] လေးပါးတူပင်၊ ဂိုဏ်းဘောဇဉ်၊ စားရှင်စားနိုင်သည်။**

ဝိနည်းသိက္ခာပုဒ်ကို နားမလည်တဲ့ ဒါယကာ ဒါယိကာမတွေက သံဃာတော် အရှင်မြတ်တွေကို **"အရှင်ဘုရား တပည့်တော်အိမ်ကို မနက်ဖန် ထမင်းစားကြွပါဘုရား၊ မုန့်ဟင်းခါးစား ကြွပါဘုရား"** လို့ လျှောက်ထားပြီး ပင့်ဖိတ်ရင် မအပ်သောပင့်ဖိတ်နည်းလို့ခေါ်တယ်။ အဲဒီလို မအပ်သော ပင့်ဖိတ်နည်းနဲ့ ပင့်ဖိတ်တဲ့ ဆွမ်းဘောဇဉ်ကို သံဃာတော်လေးပါး အတူ မစားကောင်းဘူး၊ အတူစားရင် အာပတ်သင့်တော့တာပဲ၊ ဘုရားရှင်ပညတ်ထားတဲ့ သိက္ခာပုဒ်အရ အပြစ်သင့်တယ်။

အဲဒီလို အပြစ်သင့်မှုဟာ ကထိန်သင်္ကန်းခံယူလို့ ကထိန်အာနိသင်ရတဲ့ နေ့ကစပြီး ငါးလအတွင်းမှာ ကင်းလွတ်ခွင့်ရတယ်။ မအပ်တဲ့ ပင့်ဖိတ်နည်းနဲ့ ပင့်ဖိတ်တဲ့ ဆွမ်းဘောဇဉ်ကို လေးပါးအတူတူ ဘုဉ်းပေးနိုင်သွားတယ်။

ဒါဟာ ပညတ်တော်တစ်ခုက ကင်းလွတ်ခွင့်ရသွားတဲ့ တတိယမြောက် အကျိုးတစ်ခုပဲ။ နောက်ဆုံးအကျိုးက–

**[၅] သံဃာလှူငြား၊ ပစ္စည်းများ၊ သူ့အားသာ ဖြစ်သည်။**

ယနေ့ ကထိန်သင်္ကန်းတွေကို အားလုံးစုပေါင်းပြီးတော့ (**ဣမံ ကထိန စီဝရံ သံဃဿ ဒေမ**) လို့ သံဃာကို ရည်မှန်းပြီး လှူဒါန်းလိုက်ကြတယ်၊ အဲဒီ သင်္ကန်းတွေဟာ ယောဒီ ပန်းငွေရုံစာသင်တိုက်မှာ ရှိကြတဲ့ ပုရိမဝါမှ ထတဲ့ သံဃာတော်အရှင်မြတ်တွေသာ ပိုင်ဆိုင်ပါတယ်၊ ဘေးကကြွလာတဲ့ သံဃာတော် အရှင်မြတ်တွေ မပိုင်ဆိုင်ကြဘူး၊ ဒီကျောင်းတိုက်ရှိ သံဃာတွေနဲ့ပဲ ဆိုင်ပါတယ်။

**"သံဃဿ ဒေမ–သံဃာအားလှူပါ၏"** ဆိုတဲ့ စကားမှာပါတဲ့ **"သံဃာ"** အရ ဒီကျောင်းတိုက်က သံဃာတွေကိုသာ ယူရတယ်၊ ဒီကျောင်းတိုက်က သံဃာတွေကိုသာ လှူဒါန်းသည်မည်တယ်၊ **"အာရာမ သံဃိက"** ပေါ့။ အခြားရိုးရိုး လှူဒါန်းတဲ့အချိန်မှာတော့ ဒိပြင်သံဃာတွေလဲပဲ ပိုင်ဆိုင်နိုင်ပါတယ်။ ယနေ့လှူဒါန်းကြတဲ့ ကထိန်သင်္ကန်းတွေကတော့ မိမိတို့ လှူဒါန်းရာကျောင်းတိုက်သံဃာတွေသာ ပိုင်ဆိုင်ခွင့်ရှိပါတယ်။ ဒါ နောက်ဆုံး ပဉ္စမမြောက်အကျိုးပါပဲ။

အားလုံးပေါင်းလိုက်တော့ သံဃာတော်အရှင်မြတ်များဘက်က ရရှိနိုင်တဲ့ အကျိုးငါးပါးပေါ့။

ဒါကြောင့် ကထိနဒါနဟာ သံဃာတော်အရှင်မြတ်တွေ အပြစ်သင့်မှုက ကင်းလွတ်ခွင့်ရအောင် စွမ်းဆောင်နိုင်တဲ့ ဒါနမျိုးပါ။ ဒါကြောင့်လဲ ဘုရားစတဲ့ သူတော်ကောင်းတွေက အထူးဝိသေသပြု ချီးမွမ်းကြတာဖြစ်ပါတယ်။

တပည့်တော်တို့ လှူဒါန်းလိုက်တဲ့ ကထိနစီဝရဒါနဟာ သံဃာတော်အရှင်မြတ်တွေပဲ ရရှိနိုင်, ခံစားနိုင်သလားဘုရား၊ တပည့်တော်တို့ကော ဘယ်လိုအကျိုးတွေကို ခံစားနိုင်ပါသလဲဘုရား–လို့ မေးလျှောက်စရာဖြစ်လာပါတယ်။

လှူဒါန်းတဲ့ ဒါယကာ ဒါယိကာမတွေလဲ သံဃာတော်တွေ အကျိုးရသလို အကျိုးကျေးဇူးတွေ ရရှိနိုင်ပါတယ်၊ "ကံတူအကျိုးပေး" ဆိုသလို အလှူပေးပုဂ္ဂိုလ်တွေလဲ အကျိုးငါးပါးကို ပြန်လည်ရရှိမှာဖြစ်ပါတယ်–

**အလှူပေးများ အကျိုးငါးပါးရပုံ**

ကထိန်လှူရ၊ မြတ်ဖလ၊ မှတ်ကြပါလေ၊ ငါးမျိုးထွေ။

{၁}မပန်မကြား၊ မခစား၊ လာသွားနိုင်စေ၊ ရပ်ထွေထွေ။

စကြဝတေးမင်းကြီးဟာ ခရီးသွားမယ်ဆိုလို့ရှိရင် ဘယ်ပုဂ္ဂိုလ်ကိုမှ ပန်ကြားစရာမလိုဘူး၊ တိုင်ကြားစရာမလိုဘူး၊ လွတ်လွတ်လပ်လပ် ကိုယ့်သဘောအတိုင်း သွားလာနိုင်တယ်–တဲ့။ အဲဒီ စကြဝတေးမင်းကြီးလိုပဲ ကထိန်အလှူရှင်အပေါင်းတွေလဲ ဖြစ်လေရာ ဘဝသံသရာတွေမှာ အပိတ်အပင် အတားအဆီးမရှိ၊ အချုပ်အချယ်မရှိဘဲနဲ့ လိုရာဌာနကို သဘောအတိုင်း သွားလာနိုင်တယ်၊ အနှောင်အဖွဲ့ကင်းစွာ သွားလာနိုင်တယ်၊ ဒီလို ကောင်းကျိုးကို ရရှိမှာဖြစ်တယ်။

အနှောင်အဖွဲ့ကင်းစွာ သွားလာနိုင်ဖို့ဆိုတာလဲ မလွယ်ဘူး နော်၊ ယခုလို ကထိနစီဝရသံဃိကဒါနကို ပြုလုပ်သူသည် အနှောင်အဖွဲ့ကင်းရှင်းစွာ သွားလာနိုင်ပါတယ်–တဲ့။ ရဟန်းတော်များ ရရှိတဲ့ အကျိုးကျေးဇူးနဲ့တူစွာ အလှူရှင်များဘက်က ရရှိတဲ့အကျိုးပါပဲ။

{၂}ကိုယ်ပိုင်ဥစ္စာ၊ ထားလိုရာ၊ ထားပါလျှက်ပေ၊ ရန်ကင်းစေ၊

မိမိတို့ ပိုင်ဆိုင်တဲ့ပစ္စည်းဥစ္စာတွေကို ထားချင်သလိုထား၊ ဘယ်လိုရန်သူမျိုးထွေ့မှ နှောက်ယှက်ဖျက်ဆီးလို့မရဘူး။

ဇောတိကသူဌေးကြီးကို ကြည့်ပေါ့၊ သူ့ရဲ့ ပစ္စည်းတွေကို ဘယ်သူမှ ဖျက်ဆီးလို့ မရခဲ့ဘူး၊ အဇာတသတ်မင်းကြီးဖျက်ဆီးတယ်၊ သွားရောက်သိမ်းဆည်းတယ်၊ သိမ်းဆည်းလို့ မရခဲ့ဘူး၊ ဒီ သာဓကတွေရှိနေပါတယ်။ အဲဒီလို ဖျက်ဆီးလို့မရနိုင်တာ ဘာကြောင့်လဲ၊ ရှေးရှေးက ယခုလို ကထိန စီဝရဒါနကောင်းမှုမျိုးတွေကို ပြုလုပ်ခဲ့လို့ပဲ။ ဒါကြောင့် ဇောတိကသူဌေးကြီးတို့လို မိမိတို့ပိုင်ဆိုင်တဲ့ ပစ္စည်းဥစ္စာရတနာတွေကို ဖြစ်လေရာသံသရာတွေမှာ ရန်သူမျိုးငါးပါး အနှောက်အယှက်တွေက ကင်းဝေးနိုင်ပါတယ်။ ဒါက ဒုတိယအကျိုးပါပဲ။

{၃}ဝတ်စားဖုံးဖုံ၊ လွန်ပြည့်စုံ၊ ကိုယ်လုံကျက်သရေလက်လက်ဝေ။

အနုရုဒ္ဓါမင်းသားကဲ့သို့ အဝတ်အစားတွေ၊ စားဖွယ်သောက်ဖွယ်တွေ ပြည့်စုံတယ်၊ လိုရာတွေ ပြည့်စုံတယ်၊ ဝတ်ချင်တဲ့အဝတ်တွေကို ဝတ်ရတယ်၊ စားချင်တဲ့ အစားအစာတွေကို စားနိုင်တယ်၊ အဝတ်အစားတွေ ပြည့်စုံပြီး ကျက်သရေတိုးခြင်းဆိုတဲ့ အကျိုးကို ရရှိမယ်။ ဒါက တတိယမြောက်ရရှိမယ့်အကျိုးပဲ။

{၄}မိတ္တာအပင်း၊ ပြစ်မျိုးကင်း၊ သန့်ရှင်းစာရေ ရနိုင်စေ။

အစားအစာနဲ့ပတ်သက်ပြီးတော့ ဘေးဥပါဒ်တွေ မကျရောက်ဘူး၊ မကြေညက်တဲ့ အစားအစာကိုစားလဲ ကြေညက်တယ်၊ သူတစ်ပါးတွေက အဆိပ်အတောက်ခပ်လဲ ဘယ်တော့မှ အဆိပ်မသင့်ဘူး၊ အစားအသောက်နဲ့ ပတ်သက်ပြီး ဘေးဥပါဒ်တွေ မကျရောက်နိုင်ဘူး–တဲ့။ ဝိသာခါကျောင်းအမကြီးတို့လို သား,သမီး,မြေး,မြစ်တွေနဲ့ ပျော်ပျော်ရွှင်ရွှင်နေသွားရမယ်။

{၅}စည်းစိမ်ဖြိုင်ဖြိုင်၊ လွန်ကြံ့ခိုင်၊ စိုးပိုင်လှစေ၊ တင့်ဖြိုးဝေ။

သီရိဓမ္မာသောကမင်းကြီးဟာ အထက်တစ်ယူဇနာ၊ အောက်တစ်ယူဇနာ အစိုးရတယ်၊ စည်းစိမ်ဥစ္စာအခြံအရံတွေနဲ့ ပြည့်စုံတယ်၊ ကျော်စောသတင်းတွေ ပြန့်နှံ့တယ်။ ယခု ကထိနစီဝရဒါနရှင်တွေလဲပဲ သီရိဓမ္မာသောကမင်းကြီးတို့လို ဘဝသံသရာတွေမှာ တန်ခိုးဣဒ္ဓိပါဒ်တွေနဲ့ ပြည့်စုံခြင်းအကျိုးတရားတွေကို ရရှိခံစားနိုင်ပါတယ်။ ဒါက ကထိနစီဝရဒါနကောင်းမှုပြုသူတွေ ခံစားရမယ့် အကျိုးတွေပါပဲ။

ပေါင်းလိုက်တော့ အကျိုးငါးပါး။ ဒီ အကျိုးတရားတွေကို

အလှူပေးဖြစ်တဲ့ ပုဂ္ဂိုလ်တွေ ရရှိခံစားမှာ ဖြစ်ပါတယ်။

ဒါကြောင့် ဒီ ကထိန်သင်္ကန်းလှူဒါန်းရတဲ့ ကောင်းမှုသည် ကောင်းမှုတွေထဲမှာ ဘုရားအစရှိတဲ့ သူတော်ကောင်းတွေ အထူးဝိသေသပြုပြီးတော့ ချီးမွမ်းတဲ့ ကောင်းမှုမျိုးဖြစ်တယ်။ ဝမ်းမြောက်စရာကောင်းလှတယ်၊ ဒီပြင် ကောင်းမှုမျိုးနဲ့ မတူဘူး–တဲ့။ ဒါကြောင့် –

ဘုရားမှာတော့စိန်၊ ကျောင်းမှာတော့သိမ်၊ သင်္ကန်းမှာတော့ကထိန်။

ဒီလို ဆိုရိုးပြုထားကြတယ်။ ဘုရားစေတီပုထိုးကို လှူတဲ့နေရာမှာ စိန်ဖူးတော်ကို လှူဒါန်းရတဲ့ အလှူဟာ အမြတ်ဆုံးအလှူ–တဲ့။ သာသနာတော်မှာ ကျောင်းအဆောက်အဦတွေ လှူဒါန်းတဲ့နေရာမှာ သိမ်ကျောင်းကို လှူဒါန်းရတဲ့အလှူဟာ အမြတ်ဆုံး–တဲ့။ သင်္ကန်းများမှာတော့ ကထိန်သင်္ကန်းကို လှူဒါန်းရတဲ့အလှူဟာ အမြတ်ဆုံးပဲ–တဲ့။ ဒါကြောင့် ကထိန်သင်္ကန်းအလှူသည် ဖွန်မြတ်တဲ့အလှူတစ်မျိုးဖြစ်တယ်။

**ဒီဃဇယန္တဒမိဠအကြောင်း**

"ဒီဃဇယန္တဒမိဠ" အမည်ရှိတဲ့ အမျိုးကောင်းသားတစ်ယောက်မှာ သုမနဂိရိကျောင်း တောင်ထိပ်စေတီတစ်ဆူမှာ နီသောအဝတ်ပုဆိုးတစ်ထည်ကို သင်္ကန်းအဖြစ်ဖြင့် သွားရောက်လှူဒါန်းပူဇော်ခဲ့တယ်၊ အဲဒီ အမျိုးကောင်းသားဟာ အခြားသော အကုသိုလ်ကံတွေကြောင့် သေခါနီးမှာ မကောင်းတဲ့ အာရုံနိမိတ်တွေ ထင်ပြီးတော့ သေလွန်သွားတယ်၊ ဘယ်ရောက်သွားသလဲဆိုတော့ ဥဿဒငရဲအနီးကို ရောက်သွားတယ်။

အဲဒီအခါ သူ ဘာတွေကြားရသလဲဆိုတော့၊ မီးတောက်မီးလျှံတွေ တောက်လောင်နေတဲ့ အသံတွေကို ကြားရတယ်၊ ဒါနဲ့ တစ်ချိန်က တောင်ထိပ်စေတီကို သင်္ကန်းတစ်ထည် လှူဒါန်းခဲ့ဖူးတဲ့ ကောင်းမှုလေးကို သွားပြီး သတိရလိုက်တယ်၊ သတိရတာနဲ့ တပြိုင်နက် အဲဒီ ဥဿဒငရဲက ချက်ချင်း လွတ်မြောက်ပြီးတော့ နတ်ဘုံကို ရောက်သွားတယ်။အဲဒါ ရိုးရိုးသာမန်သင်္ကန်းအလှူလေးပါ။

**အမျိုးကောင်းသားတစ်ယောက်အကြောင်း**

ကိုအတ္ထုပဲ၊ နောက် အမျိုးကောင်းသား တစ်ယောက်ဟာလဲ

သူ့ရဲ့ သားတော်ရဟန်းတစ်ပါးကို သင်္ကန်းတစ်ထည်လှူဒါန်းခဲ့ဖူးတယ်၊ သူလဲ သေခါနီးမှာ အကုသိုလ်ကံကြောင့် ဥဿဒငရဲအနီးမှာ သွားဖြစ်တယ်၊ ဥဿဒငရဲက မီးလျှံတွေ တောက်လောင်နေတဲ့ အသံတွေကို ကြားလိုက်ရတယ်ဆိုရင်ပဲ ယခင်က သားတော်ရဟန်းကို သင်္ကန်းလှူဒါန်းခဲ့ဖူးတာကို အမှတ်ရလိုက်တယ်၊ အမှတ်ရလိုက်တာနဲ့တပြိုင်နက် ဥဿဒငရဲက ချက်ချင်းလွတ်မြောက်ခဲ့ပြီး နတ်ပြည်ကိုရောက်၊ နတ်စည်းစိမ်တွေကို ခံစားသွားရတယ်။

ဒီသာဓကတွေကို ကြည့်မယ်ဆိုရင် ရိုးရိုးသင်္ကန်းအလှူသည်ပင် ယခုလို သုဂတိဘဝရောက်အောင် အကျိုးပေးနိုင်တာဖြစ်လို့ ယနေ့ယခုလို ထူးခြားသော ကထိန်သင်္ကန်းကို လှူဒါန်းရခြင်းကြောင့် ဒါထက် မကသော အကျိုးကျေးဇူးတွေကို ရရှိနိုင်မယ်ဆိုတာ အထူးပြောဖွယ်ရာမလိုတော့ပါဘူး။

ဒါကြောင့် မိမိတို့ ယနေ့ လှူဒါန်းရတဲ့ ကုသိုလ်ကောင်းမှုသည် အင်မတန်မှ ကြီးကျယ်မြင့်မြတ်တဲ့ ကောင်းမှုမျိုးဖြစ်လို့ ကြီးကျယ်မြင့်မြတ်တဲ့ ကောင်းကျိုးချမ်းသာတွေကို ရရှိခံစားရမယ်ဆိုတာ သဘောကျထားရမယ် နော်။

**လို့,တာ, ရ ကောင်းမှုမျိုးပြစ်**

**သေဒေဝမနုဿာနံ ၊ သဗ္ဗကာမဒဒေါ နိဓိ။**

**ယံ ယဒေဝါဘိပတ္ထေန္တိ ၊ သဗ္ဗမေတေန လဗ္ဘတိ။** (ခုဒ္ဒကပါဌ)

**သော သော နိဓိ**—ဤကထိနစီဝရဒါနတည်းဟူသော ကုသိုလ်ရတနာရွှေအိုးကြီးသည်၊ **ဒေဝမနုဿာနံ**—နတ်လူလို့၏၊ **သဗ္ဗကာမဒဒေါ**—အလုံးစုံသော အလိုဟူသမျှကို ပေးတတ်သော၊ **နိဓိ**—ရတနာရွှေအိုးတည်း။ **ယံ ယံ**—အကြင်အကြင်လိုလားတောင့်တအပ်သော စည်းစိမ်ချမ်းသာအကျိုးကို၊ **အဘိပတ္ထေန္တိ**—လိုလားတောင့်တကြကုန်၏၊ (**တံတံ**—ထိုထို တောင့်တသမျှသော အကျိုးစီးပွားချမ်းသာကို)**သဗ္ဗံ ဧဝ**—အလုံးစုံကိုသာလျှင်၊ **ဧတေန**—ယနေ့ယခု ကထိနဒါနကောင်းမှုစသော ကုသိုလ်ဟူသော ဤရတနာရွှေအိုးကြီးဖြင့်၊ **လဗ္ဘတိ**—မုချမသွေ ရရှိနိုင်ပါပေသတည်း. . .။

မိမိတို့ လိုလားတောင့်တအပ်သော ကောင်းကျိုးတွေကို ပေးနိုင်တဲ့

အလှူမျိုးဖြစ်တယ်၊ လူချမ်းသာကို လိုချင်လဲ ရတယ်၊ နတ်ချမ်းသာကို လိုချင်လဲ ရတယ်၊ နိဗ္ဗာန်ချမ်းသာကို လိုချင်လဲ ရတယ်။

အမျိုးသမီးများဆိုရင် ယနေ့လို ကထိန်သင်္ကန်းကို လှူဒါန်းရတဲ့ အတွက်ကြောင့် ဝိသာခါကျောင်းအမကြီးတို့ကဲ့သို့ မဟာလတာတန်ဆာကို ဆင်မြန်းနိုင်တယ်၊ အဖိုးကိုးကုဋေထိုက်တန်တဲ့ မဟာလတာတန်ဆာကြီးကို ဆင်မြန်းနိုင်တယ်၊ ရတနာမျိုးစုံတွေနဲ့ စုပေါင်းပြီး ပြုလုပ်ထားတဲ့ တန်ဆာ၊ ဘယ်လောက်ကြာအောင် ပြုလုပ်ရသလဲဆိုတော့၊ လေးလတိတိ ပြုလုပ် ရတယ်၊ လက်ခက အဖိုးတစ်သိန်းထိုက်တယ်။ အဲဒီလို မြင့်မြတ်တဲ့ တန်ဆာကို ဆင်မြန်းနိုင်တယ်။

ဥပ္ပလဝဏ်ထေရီမလို ဖြစ်လေရာရာဘဝတွေမှာ ရုပ်အဆင်းတွေ လှပပြီးတော့ နောက်ဆုံး အရဟတ္တမဂ် အရဟတ္တဖိုလ်ကို မျက်မှောက်ပြု နိုင်တယ်။

အမျိုးကောင်းသားတွေဆိုရင်လဲ "ဧဟိ ဘိက္ခု" အဖြစ်ကို ရရှိနိုင် တယ်။ "ဘိက္ခု–ရဟန်း၊ ဧဟိ–လာလှည့်" လို့ ဗုဒ္ဓက နှုတ်မြွက်ပြီး လက် တော်ကို ဆန့်တန်းလိုက်တာနဲ့တပြိုင်နက် လူအသွင်ပျောက်ပြီး ပရိက္ခရာ အပြည့်အစုံနဲ့ ရဟန်းအသွင်ကို ရတယ်၊ ဒါ ဧဟိဘိက္ခုရဟန်းပဲ။

အမျိုးကောင်းသားတွေဆိုရင် ဒီလို ဧဟိဘိက္ခုရဟန်းအဖြစ်ကို ရနိုင်တယ်၊ အရဟတ္တမဂ် အရဟတ္တဖိုလ်ဆိုတဲ့ ချမ်းသာတွေကို ရနိုင်တယ်။

ဝမ်းမြောက်ဖို့ကောင်းတဲ့ အလှူ၊ လိုတာကို ရနိုင်တဲ့ ရွှေအိုးကြီး နဲ့တူတဲ့ ကောင်းမှုကြီး။ ရတနာမျိုးစုံ ထည့်ထားတဲ့ ရွှေအိုးကြီးကို ပိုင် ဆိုင်တဲ့သူဟာ ဘာလိုချင်သလဲ၊ လိုချင်တာ ရပြီပေါ့။ ယခုလို ယနေ့ ပြုလုပ်တဲ့ ကထိနစီဝရဒါနဟာလဲ ရတနာရွှေအိုးကြီးနဲ့တူပါတယ်။ ရတနာ ရွှေအိုးကြီးကို ပိုင်ဆိုင်ကြရပြီလို့ပဲ မှတ်ကြရမယ်၊ ဒီ ကထိနဒါနကောင်းမှု ကြောင့် မိမိတို့ အလိုရှိရာကို တောင့်တလို့ ရနိုင်ပါတယ်။

**နိဗ္ဗာန်ကိုသာ ဆုတောင်း**

ဒါပေမယ့် လောကီချမ်းသာဆိုတာတွေကတော့ အို၊နာ၊သေ ဆိုတဲ့ ဘေးဒုက္ခတွေက မလွတ်ကင်းနိုင်ဘူးပေါ့၊ လောကုတ္တရာချမ်းသာမှသာ အို၊နာ၊သေဒုက္ခတွေက လွတ်မြောက်နိုင်ပါတယ်။

ဒါကြောင့် လောကုတ္တရာချမ်းသာဖြစ်တဲ့ ဒုက္ခခပ်သိမ်း ချုပ်ငြိမ်းရာမှန် မြတ်နိဗ္ဗာန်ကိုသာ တောင့်တကြ၊ ဒါမှ အို၊ နာ၊ သေဒုက္ခတွေက လွတ်မြောက်မှာဖြစ်တယ်၊ အကောင်းဆုံးသောချမ်းသာ၊ အမွန်မြတ်ဆုံးသော ချမ်းသာကြီးလဲဖြစ်ပါတယ်။

ဒါကြောင့်မို့ မိမိတို့ ယနေ့ယခုပြုလုပ်တဲ့ ကောင်းမှုအဖြာဖြာကို အားလုံးသော လူနတ်ဗြဟ္မာသတ္တဝါတွေကို အမျှအတန်းပေးဝေ၊ နိဗ္ဗာန်ကိုလဲ အာရုံပြု တောင့်တပြီးတော့ ရေစက်ချရအောင် — —